(၂၃.၄.၉၉) ၇/၉၉ MIC

လျှို့ဝှက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၆(ခ)/၉၇၂/၉၉(၁၂၆၇)။
ရက်စွဲ၊ ၁၉၉၉ ခုနှစ်၊ ဧပြီလ ၂၀ ရက်။

အမှာစာ

အကြောင်းအရာ။ ။ အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက်မှသီနီ-ကွမ်းလုံ-ချင်းရွှေဟော်လမ်းအပိုင်းပြုပြင်ဖောက်လုပ်မှုလမ်းတံတားအသုံးပြုခများကောက်ခံခြင်းလုပ်ငန်းဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက်(Asia World Co., Ltd )သည်သီနီ-ကွမ်းလုံ - ချင်းရွှေဟော်လမ်းအပိုင်းပြုပြင်ဖောက်လုပ်မှုလမ်းတံတားအသုံးပြုခများကောက်ခံခြင်းလုပ်ငန်းကိုမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရဆောင်ရွက်ရန်အဆိုပြုတင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကိုမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၂-၄-၉၉)နေ့တွင်ကျင်းပပြုလုပ်သည့်(၆/၉၉)ကြိမ်မြောက်ကြိုတင်ညှိနှိုင်းအစည်းအဝေးသို့တင်ပြခဲ့ရာအစည်းအဝေးမှအောက်ပါအတိုင်းဆုံးဖြတ်ခဲ့ပါသည် -

(၁) အဆိုပြုလုပ်ငန်းအားမူအားဖြင့်သဘောတူသဖြင့်ကော်မရှင်အစည်းအဝေးသို့ဆက်လက်တင်ပြရန်၊

(၂) လုပ်ငန်းသက်တမ်းကိုကနဦးနှစ်(၃၀)နှင့်နောက်ထပ်(၅)နှစ်(၂)ကြိမ်တိုးမြှင့်ရန်၊

(၃) နိုင်ငံတော်သို့ပေးသွင်းရမည့်နှုန်းကိုအောက်ပါအတိုင်းသတ်မှတ်ရန်၊

| | |
|---|---|
| (၁)နှစ်မှ (၃)နှစ်ထိ | ကင်းလွတ်ခွင့် |
| (၄)နှစ်မှ(၁၃)နှစ်ထိ | ၁၀ % |
| (၁၄)နှစ်မှ(၂၃)နှစ်ထိ | ၂၀ % |
| (၂၄)နှစ်မှ(၃၀)နှစ်ထိ | ၃၀ % |

(၄) သက်ဆိုင်ရာဝန်ကြီးဌာနမှ ခွင့်ပြုမိန့်ချမှတ်ပြီးနောက် ဝင်ငွေရှာ(?) ...

လျှို့ဝှက်

(၅) လမ်းအသုံးပြုခ ကောက်ခံမည့်နှုန်းများကိုလည်း လမ်းလုပ်ငန်း များ ဖွင့်သည်မှ ယခုထားသည့်အတိုင်း ထား ရှိရန်၊

(၆) လမ်းလုပ်ငန်း များ နှင့်စီမံကိန်း၏ Commercial Operation Date - ကိုမှတ်ရန်အတွက်တင်ပြရန်။

အထက်ပါ အချက်များ ကိုပြန်လည်ပြင်ဆင်ပြီး တင်ပြလာသဖြင့် ကော်မရှင်အစည်းအဝေး သို့ဆက်လက်တင်ပြခြင်း ဖြစ်ပါသည်။ ယင်းပြုချက်နှင့်အတူ စက်ပစ္စည်း နှင့်ကုန်ကြမ်း ပစ္စည်း များ ဝယ်ယူရန် ရွှေ့ဆိုင်း ငွေ ပေး ချေခြင်း စနစ် သဘောတူစာချုပ်(မူကြမ်း)၊ ပဋိညာဉ်စာချုပ်(မူကြမ်း)၊ ငှားရမ်း ချုပ်ဆိုး သဘော ထားမှတ်ချက်နှင့် ငွေ ရေး ကြေး ရေး ဆိုင်ရာ အသေးစိတ်အချက်များ ကိုနောက်ဆက်တွဲ(၁)တွင်တင်ပြထား ပါသည်။

၂။ ယင်း လုပ်ငန်း ၏မတည် ငွေရင်း ပမာဏမှာ အမေရိကန် ဒေါ်လာ (၂၁.၀၀)သန်း အပါအဝင်စုစု ပေါင်း ကျပ်(၁၂၇၆.၀၀)သန်း ဖြစ်ပါသည်။ယင်းတွင် ငွေသား ကျပ်(၁၂၄၄.၉၀)သန်း[အမေရိကန် ဒေါ်လာ(၁၅.၀၂)သန်း အပါ အဝင်]၊ စက်ပစ္စည်း ကိရိယာ တန်ဖိုး ကျပ်(၇.၃၄)သန်း[အမေရိကန် ဒေါ်လာ (၁.၂၂)သန်း] နှင့်ကုန်ကြမ်း တန်ဖိုး ကျပ်(၂၃.၇၆)သန်း[အမေရိကန်ဒေါ်လာ (၃.၉၆)သန်း] ထည့်ဝင်ရင်းနှီး မည်ဖြစ်ပါသည်။ ငွေသား ကျပ်(၁၂၄၄.၉၀) သန်း မှာကိုယ်ပိုင် ငွေကျပ်(၅၅၀.၀၀)သန်း၊ ပြည်တွင်း ချေး ငွေကျပ်(၆၀၀.၀၀) သန်း နှင့်ပြည်ပ ချေး ငွေကျပ်(၉၄.၉၀)သန်း[အမေရိကန် ဒေါ်လာ(၁၅.၀၂) သန်း] ပါဝင်ပါသည်။ ပြည်တွင်း ချေး ငွေကိုဆိုင်းငံ့ကာလ(၂)နှစ်ဖြင့်တစ်နှစ်လျှင် အတိုး နှုန်း (၁၆.၅) ရာခိုင်နှုန်း ဖြင့်(၁၀)နှစ်ပြန်လည် ပေး ဆပ်ရမည်ဖြစ်ပါ သည်။ ပြည်ပ ချေး ငွေအမေရိကန် ဒေါ်လာ(၂၁.၀၀)သန်း ကိုစင်ကာပူနိုင်ငံ - SHNG Trading မှ ရွှေ့ဆိုင်း ငွေ့ပေး ချေခြင်း စနစ်ဖြင့်ရယူမည်ဖြစ်ပြီး ဆိုင်းငံ့ ကာလ(၃)နှစ်ဖြင့်တစ်နှစ်လျှင်အတိုး နှုန်း (၇) ရာခိုင်နှုန်း ဖြင့်(၁၀) နှစ်ပြန် လည် ပေး ဆပ်ရမည်ဖြစ်ပါသည်။

၃။ ယင်း ကုမ္ပဏီသည်သိန္နီ-ကွမ်း လုံ- ချင်း ရွှေ ဟော်(၆၆) မိုင်ရှည် သော လမ်း အပိုင်း ကိုပြုပြင် ဖောက်လုပ်၍လမ်း ပေါ်တွင် အသုံး ပြုခများ ကောက်ခံခြင်း လုပ်ငန်း ကို ဆောင်ရွက်မည်ဖြစ်ပါသည်။

၄။ အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက်နှင့်ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းတို့ချုပ်ဆိုမည့်ပဋိညာဉ်စာချုပ်(မူကြမ်း) ပါ အဓိကအချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်–

- လုပ်ငန်းသက်တမ်းမှာ ကနဦး နှစ်(၃၀) ဖြစ်ပြီး နောက်ထပ် (၅) နှစ်(၂) ကြိမ်တိုးမြှင့်ခွင့်ရှိပါသည်။

- လမ်းနယ်နမိတ်မှာ ကျေးရွာများ အတွင်းဖြတ်သန်းသည့်နေရာများနှင့်မြို့တွင်းလမ်းများမှအပ အကျယ်ပေ(၂၀၀) နှင့်အရှည် (၆၆) မိုင်ရှိပါသည်။

- လမ်းတံတားအသုံးပြုခကောက်ခံမည့်ဂိတ်များမှာ ဂိတ်အမှတ်(၁) သိန္နီ၊ ဂိတ်အမှတ်(၂) ကွမ်းလုံနှင့်ဂိတ်အမှတ်(၃) ချင်းရွှေဟော်တို့ဖြစ်ပါသည်။

- နိုင်ငံတော်သို့ပေးသွင်းရမည့်လမ်းတံတားခနှုန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည်–

| | |
|---|---|
| - ပထမနှစ်မှ (၃) နှစ်မြောက်ထိ | ကင်းလွတ်ခွင့် |
| | စုစုပေါင်းလမ်းတံတားအသုံးပြုခကောက်ခံရငွေ၏ |
| - (၄) နှစ်မှ (၁၃) နှစ်မြောက်ထိ | ၁၀ % |
| - (၁၄) နှစ်မှ (၂၃) နှစ်မြောက်ထိ | ၂၀ % |
| - (၂၄) နှစ်မှ (၃၀) အထိ | ၃၀ % |

- ဘဏ်အာမခံကြေးငွေကို စာချုပ်ချုပ်ဆိုပြီး (၂၀) ရက်အတွင်း ရင်းနှီးမြှုပ်နှံမှုကုန်ကျစရိတ်၏ (၁) ရာခိုင်နှုန်းနှင့်ညီမျှသောငွေကို ထားရှိပေးရမည်ဖြစ်ပါသည်။ ယင်းသက်တမ်းသည် စတင်ထုတ်ပေးသည့်နေ့မှ လုပ်ငန်းပြီးဆုံးအောင် ဆောင်ရွက်သည့်အထိဖြစ်သည်။ Asia World Co., Ltd သည်လုပ်ငန်းစတင်ရန်အကြောင်းကြားစာရပြီး ရက်(၃၀) အတွင်း လုပ်ငန်းစတင်ရန်ပျက်ကွက်လျှင်သော်လည်းကောင်း၊ (၃၆) လအတွင်း လုပ်ငန်းကိုပြီးစီးအောင် ဆောင်ရွက်ရန် အပါအဝင်စာချုပ်ပါစည်းကမ်းချက်များကိုလိုက်နာရန် ပျက်ကွက်ပါက ဘဏ်အာမခံငွေကိုပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းမှ သိမ်းယူရမည်ဖြစ်ပါသည်။ ဘဏ်အာမခံငွေကိုလုပ်ငန်းအပြီးသတ်ဆောင်ရွက်ပြီး ပြီးစီးလက်မှတ်ထုတ်ပေးပြီး ရက်ပေါင်း(၃၀) အတွင်း Asia World Co., Ltd. သို့ပြန်လည်ထုတ်ပေးရမည်ဖြစ်ပါသည်။

- လမ်းသားအကျယ်ကို (၂) လမ်းသွားအလွတ် (၂၆) ပေအကျယ်နှင့် တောင်ပေါ်ဒေသများအတွက်အနည်းဆုံး (၁၈) ပေရှိရမည် ဖြစ်ပြီး လုပ်ငန်းများကို အဆင့် (၃) ဆင့်ဖြင့် ဖေါက်လုပ်သွားရမည် ဖြစ်ပါသည်။

  - ပထမအဆင့် – စုစုပေါင်း လမ်းအကျယ် (၁၈) ပေရှိ ကျောက်ခင်း ထားရသောလမ်း ဖေါက်မှုလက်ရှိတံတားများကိုယာဉ်နှစ်စင်းရှောင် နိုင်ရန်ခံနိုင်ရည်ရှိသည်အထိတည် ဆောက်ရမည်ဖြစ်ပါသည်။
  - ဒုတိယအဆင့် – စုစုပေါင်း လမ်းအကျယ် (၂၆) ပေရှိနှစ်လမ်းသွား လမ်းအဖြစ်တိုးချဲ့ဆောက်လုပ်ရမည်ဖြစ်ပါသည်။
  - တတိယအဆင့် – နိုင်ပွန်ကတ္တရာလမ်း အဆင့်အထိ ဆောက်လုပ်ရမည် ဖြစ်ပါသည်။

- လမ်းသားတည်ဆောက်ရာတွင်ယာဉ်နှင့်ကုန်အလေးချိန်စုစုပေါင်း တန် (၄၀) ခံနိုင်ရန်နှင့်တံတားများ ဆောက်လုပ်ရာတွင်ယာဉ် နှင့်ကုန်စုစုပေါင်းတန် (၆၀) ခံနိုင်ရန်တည် ဆောက်ရမည်ဖြစ်ပါ သည်။

- လုပ်ငန်းစတင်ဆောင်ရွက်မည့်နေ့မှာပြည်သူ့ဆောက်လုပ်ရေးလုပ် ငန်းမှလုပ်ငန်းစတင်ရန်အကြောင်းကြားစာကိုလက်ခံရရှိသည့် နေ့ဖြစ်သည်။

- နိုင်ငံတော်သို့ပေးသွင်းရမည့်လမ်းအသုံးပြုခကောက်ခံရငွေများ ကိုပေးသွင်းရန်သတ်မှတ်ရက်ထက်နောက်ကျပေးသွင်းပါက ပေး သွင်းရမည့်ရက်ထက် (၁၀) ရက်ကျော်တိုင်း ၊ ပေးသွင်းရမည့်ငွေ ပမာဏ၏ (၅) ရာခိုင်နှုန်းဒီကိုနောက်ကျကြေးအဖြစ်အပိုဆောင်း ပေးသွင်းရမည်ဖြစ်ပါသည်။

- လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသည့်ကာလပြီးဆုံးပါကအဆိုပါလမ်း ၊ တံတား ဂိတ်များနှင့် အဆောက်အဦများကိုပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း သို့အဖိုးအခ [illegible] တစ်စုံတစ်ရာမရှိဘဲကောင်းမွန်သောအနေ အထားအတိုင်းလွှဲပြောင်းပေးရမည်ဖြစ်ပါသည်။

၅။ ကုမ္ပဏီမှဝန်ဆောင်မှုလုပ်ငန်းအဖြစ် ဆောင်ရွက်မည့်လမ်း၊ ပိတ်ကား အသုံးပြုခ ကောက်မည့်နှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | (တစ်စီး နှုန်း) |
|---|---|
| - ယာဉ်ငယ်(၁)တန် အောက် | ကျပ် ၁၀၀ |
| - ယာဉ်လတ်(၁တန်နှင့်၂ခွဲတန်) | ကျပ် ၃၀၀ |
| - ခရီးသည်တင်ကား (အကြီး) | ကျပ် ၅၀၀ |
| - ထရပ်ကား အလတ်(၁၀)တန်အထိ | ကျပ်၁၀၀၀ |
| - ထရပ်ကား (၂၀တန်အထိ) | ကျပ်၂၀၀၀ |

တန်(၂၀)နှင့်အထက်ယာဉ်များသည် နောက်ထပ်ပိုလာသော(၁)တန် တိုင်းအတွက်ကျပ်(၂၀၀)စီထပ်ပေါင်းပေး ဆောင်ရမည်ဖြစ်ပါသည်။ နှုန်းများကိုမည် သို့ပင်သတ်မှတ်စေကာမူ နိုင်ငံတော်မှအခါအား လျော်စွာသတ်မှတ်သည့်နှုန်း အတိုင်း ကောက်ခံရန်ဖြစ်ပါသည်။

၆။ ယင်းလုပ်ငန်းကို ဆောင်ရွက်ခြင်း ဖြင့်ကုမ္ပဏီမှတစ်နှစ်ပျမ်း မျှရရှိ မည့်ဝင်ငွေနှင့်အသုံး စရိတ်ခန့်မှန်း ခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | (ကျပ်သန်း) |
|---|---|
| (က) ဝင်ငွေ | ၄၅၅.၇၂ |
| (ခ) အသုံး စရိတ် | ၄၃၂.၃၂ |
| (ဂ) အသားတင်အမြတ် | ၂၃.၄၀ |

၇။ ယင်းလုပ်ငန်းကို ဆောင်ရွက်ခြင်း ဖြင့်နိုင်ငံတော်မှတစ်နှစ်ပျမ်း မျှရရှိမည့်အကျိုး အမြတ်ခန့်မှန်း ခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| | |
|---|---|
| - ဝင်ငွေခွန် | ကျပ် ၃၁.၃၉သန်း |
| - လမ်း၊ တံတားဖြတ်သန်း ခရငွေ | ကျပ်၁၀၉.၅၉သန်း |

၈။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက်ပြည်တွင်းမှဝန်ထမ်း (၁၉၂၀)ဦး ခန့်ထား ဆောင်ရွက်မည်ဖြစ်ပါသည်။

၉။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများ သာလျှင် ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပြီး၊ နိုင်ငံခြားမှ ရင်းနှီးမြှုပ်နှံမှုမရှိကြောင်း၊ ပြည်ပမှချေးငွေ ရယူခြင်းသည် နိုင်ငံတော်နှင့်သက်ဆိုင်ခြင်းမရှိဘဲ ကုမ္ပဏီနှင့်သာ သက်ဆိုင်ကြောင်း၊ ဈေးယာဉ်နှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို လိုက်နာမည်ဖြစ် ကြောင်း၊ လုပ်ငန်းဆောင်ရွက်သည့် ကွက်သတ်ဒေသ ပတ်ဝန်းကျင်အခြေအနေယုတ် လျော့မှုမရှိ စောင့်ထိန်းသိမ်းခြင်း၊ မီးဘေးအန္တရာယ်မကျရောက်ရန်ထိန်း သိမ်းသွားမည်ဖြစ်ကြောင်း ကတိဝန်ခံချက်ပေးထားပါသည်။

၁၀။ ယင်းလုပ်ငန်း၏ ငွေရေးကြေးရေးဆိုင်ရာ ထောက်ခံချက်အဖြစ် အေးရှားဝါး (လ်) ကုမ္ပဏီလီမိတက်၏ [illegible] ရှိ သဘောတူလက် ကျန်ငွေရင်းကို တင်ပြထားပါသည်။

၁၁။ ယင်းလုပ်ငန်း ဆောင်ရွက်ရန် မော်တော်ယာဉ်တင်သွင်းခွင့် နှင့်ပတ်သက်၍ လုပ်ငန်းသည် ထောက်ပံ့ကားအဖြစ် Tipper/Dump Truck (၃၀) စီး၊ Truck (၁၅) စီး၊ 4 x 4 Wagon (၁) စီး၊ Saloon (၆) စီး နှင့် Mini Bus (၁) စီး တို့ကို အခွန်အကောက်ကင်းလွတ်ခွင့်ပြုရန်လည်းကောင်း၊ Air Con (၃၀) လုံး နှင့် ဆီ (၃၆၀၀) ယူနစ်တင်သွင်းခွင့်ပြုကြောင်း၊ ဒီဇယ်ကိုသက်ဆိုင်ရာဝန်ကြီးဌာနသို့ လျှောက်ထားရမည်ဖြစ်ကြောင်း၊ မြန်မာ နိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၆/၉၉) ကြိမ်မြောက်ကြိုတင်ညှိနှိုင်းအစည်း အဝေးမှ ဆုံးဖြတ်ခဲ့ပါသည်။

၁၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါအခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာ ပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်း စတင်ဆောင်ရွက်သည့်နှစ်အပါအဝင် ဆက်တိုက်(၃) နှစ်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ပေးရမည်ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ဆောင်း ခံယူ ရသင်း အပေါ်သုံးသပ်တင်ပြချက်ကို ပူးတွဲတင်ပြထားပါသည်။

၁၃။ ဆုံးဖြတ်ရန်အချက်။

(က) အေးရှားဝါး (လ်) ကုမ္ပဏီလီမိတက်မှ သိန္နီ-ကွမ်းလုံ-ချင်းရွှေဟော်လမ်း အပိုင်း ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခများ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ-မတူ။

(ခ) သဘောတူပါက ယခင်အပိုဒ်(၁၂)ပါ ခွန်ကိုင်ပုတင်း ဖွင့်ခွင့်နှင့်သက်ဆိုင်သည့်ခွင့်များကို ပေး၍ ခွင့်ပြုရန်သဘောတူ-မတူ။

အတွင်းရေးမှူး (ကိုယ်စား)
[ မောင်မောင်ရီ၊ တွဲဖက်အတွင်းရေးမှူး ]

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။



* ၅၂၀/၄/၉၉။

၇/၉၉
MIC မှတ်တမ်း
(၂၃.၇.၉၉)

အေးရှားဝါး (လ်) ကုမ္ပဏီလီမိတက်မှ သိန္နီ-ကွမ်းလုံ-ချင်းရွှေဟော်လမ်းအပိုင်း ပြုပြင်ဖောက်လုပ်ရေး လမ်းတံတားအသုံးပြုခများ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စ။

ဆုံးဖြတ်ချက်။

ဖွဲ့ဖက်အတွင်းရေးမှူး ကအဆိုပြုတင်ပြခြင်းကိစ္စကို ကော်မရှင်၏ (၂၀-၄-၉၉) နေ့စွဲပါစာအမှတ်၊ ရက-၆(င)/၄၇၂/၉၉(၁၂၆၈) အမှာစာဖြင့် ရှင်းလင်းတင်ပြပါသည်။

ဥက္ကဋ္ဌက Commercial Operation Date ကိုသက်ဆိုင်ရာဌာနမှတဆင့် ကော်မရှင်သို့တင်ပြရမည်ဖြစ်ကြောင်း ပြောကြားပါသည်။

ကော်မရှင်မှအဆိုပြုတင်ပြချက်ကိုသဘောတူကြောင်းနှင့်အစိုးရအဖွဲ့သို့ဆက်လက်တင်ပြရန်ဆုံးဖြတ်ပါသည်။

| | |
|---|---|
| (က) အဆိုပြုလုပ်ငန်းအား မူအားဖြင့် သဘောတူသဖြင့် အစိုးရအဖွဲ့သို့ဆက်လက်တင်ပြရန်။<br>(ခ) လုပ်ငန်းနှင့်သက်ဆိုင်သည့် အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ ခံစားခွင့်ပြုရန်။ | အတွင်းရေးမှူး ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း |

# ASIA WORLD COMPANY LIMITED

NO. (61-62), BAHOSI DEVELOPMENT, WADAN STREET, LANMADAW TOWNSHIP, YANGON, MYANMAR.

TEL : 225271, 225371, 225982, 225184, 222422 FAX : (95-1) 227474,227553 TLX : 21519 KKEI BM.


စာအမှတ် ။AWP / Road - 310/99
ရက်စွဲ ။ ၁၂ - ၁၀ - ၉၉

သို့

အတွင်းရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန် ကုန် မြို့

အကြောင်းအရာ။ ။ ကုမ္ပဏီ၏ မော်တော်ယာဉ်ကားသွင်းခွင့်အား ထုတ်ယူခွင့်ပြုပါရန်ကိစ္စ

ရည်ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်အမှတ်(မနသ-၂၅၃/၉၉)

၁။ ကျွန်တော်များ Asia World Co..Ltd သည် ရည်ညွှန်းချက်ပါ ခွင့်ပြုမိန့်အရ သိန္နီ-ကွမ်းလုံ-ချင်းရွှေဟော် လမ်းအပိုင်းကို ပြုပြင်ဖေါက်လုပ် လုပ်ငန်းဆောင်ရွက်ခွင့်ကို ရင်းနှီးမြှုပ်နှံခွင့် ပြုခဲ့ပြီး ဖြစ်ပါသည်။

၂။ အထက်ပါလုပ်ငန်းအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုခဲ့သည့် မော်တော်ယာဉ်ကားသွင်းခွင့်အား ကုမ္ပဏီကိုယ်စား အောက်ပါ ပုဂ္ဂိုလ်ကို ထုတ်ယူခွင့်ပြုပေးပါရန် လေးစားစွာ လျှောက်ထား အပ်ပါသည်။

အမည် ဒေါ်ဝေဝေအောင်
မှတ်ပုံတင်အမှတ် KYN-157334

ထိုးမြဲလက်မှတ်

လေး စား စွာ ဖြင့်

( ဦးမောင်ကျော် )
ဒါရိုက်တာ
Asia World Co..Ltd

**ASIA WORLD COMPANY LIMITED**

NO. (61-62), BAHOSI DEVELOPMENT, WADAN STREET, LANMADAW TOWNSHIP, YANGON, MYANMAR.

TEL : 225271, 220074, 225982, 225184, 222422 FAX : (95-1) 227474,227553 TLX : 21519 KKEI BM.

သို့

အတွင်းရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

ရက်စွဲ။ ။၁၉၉၉ခုနှစ်ဇူလိုင်လ(၁၅)ရက်

အကြောင်းအရာ။ ။ Asia World Co., Ltd ၏ မော်တော်ယာဉ်တင်သွင်းခွင့် ခွင့်ပြုမိန့်အား ထုတ်ယူခွင့်ပြုပါရန် တင်ပြခြင်း ။

ကျွန်တော်များကုမ္ပဏီသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ Asia World Co.,Ltd. အမည်ဖြင့်သိန္နီ-ကွမ်းလုံ-ချင်းရွှေဟော် လမ်းအပိုင်း ပြုပြင်ဖောက်လုပ်၍ လမ်းတံတားအသုံးပြုခများ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ရန် ၇/၉၉ ကြိမ်မြောက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အစည်းအဝေးမှ သဘောတူခွင့်ပြုပြီး ၂၁-၅-၉၉ နေ့စွဲဖြင့် ခွင့်ပြုမိန့်အမှတ် မနသ-၂၅၃/၉၉ ကိုထုတ်ပေးခဲ့ပါသည်။

သို့ပါ၍ ကျွန်တော်များကုမ္ပဏီ၏လုပ်ငန်းတွင်အသုံးပြုရန်အတွက်မော်တော်ယာဉ်တင်သွင်းခွင့် ခွင့်ပြုမိန့်အားထုတ်ယူခွင့်ပြုပါရန် လေးစားစွာလျှောက်ထားအပ်ပါသည်။လျှောက်လွှာနှင့်အတူ ကနဦးလုပ်ငန်းဆောင်ရွက်မှုအခြေအနေများ အစီရင်ခံစာ၊ လုပ်ငန်း ပြုပြင် ဖောက်လုပ် ဆောင်ရွက်မှုအခြေအနေပြပုံများနှင့် စက်၊ယာဉ်ယန္တယားများဖြင့်လုပ်ငန်းဆောင်ရွက်နေပုံများကို ပူးတွဲ၍ ပေးပို့တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

U MAUNG KYAY
DIRECTOR
ASIA WORLD CO. LTD

R. 864
20.9.99

1358
2015

အ-ထွေ-ထွေ-အရပ်ရပ်-၁၆။
(ရုံးတွင်းစာအကျဉ်းချုပ်သို့တည်းမဟုတ်စာကြမ်းရေးရန်အတွက်)

အကြောင်းအရာ။ ။ အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက်(Asia World Co., Ltd. )မှ သီနွီ-ကွမ်းလုံ-ချင်းရွှေဟော်လမ်းအပိုင်းပြုပြင်ဖောက်လုပ်၍ တံတားအသုံးပြုခများကောက်ခံခြင်းလုပ်ငန်းဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက် ( Asia World Co., Ltd. )သည် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၏ သီနွီ-ကွမ်းလုံ-ချင်းရွှေဟော်လမ်းအပိုင်းပြုပြင်ဖောက်လုပ်၍ လမ်းတံတားအသုံးပြုခများကောက်ခံခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုတင်ပြချက်အား(၂၃-၄-၉၉)နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၇/၉၉)ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး၊ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်နှင့်အညီ(၁၃-၅-၉၉)နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏(၁၇/၉၉)ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခဲ့ရာ ယင်းအစည်းအဝေးမှ သဘောတူကြောင်းဆုံးဖြတ်ခဲ့ပါသည်။

၂/-သို့

* အေး * ၂၄-၃-၉၉

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
ဆောက်လုပ်ရေးဝန်ကြီးဌာန

စာအမှတ်။ ၁ / ခွဲ-၂ /ထွေ/ ၉၉ (စီ ၁၁၆၆ )
ရက်စွဲ ။ ၁၉၉၉ခုနှစ်၊ ဧပြီလ ( ၁၉ )ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန် ကုန် မြို့

အကြောင်းအရာ။ သိန္နီ-ကွမ်းလုံ-ချင်းရွှေဟော် လမ်းအပိုင်း ပြုပြင်ဖေါက်လုပ်ရေး လုပ်ငန်း လုပ်ကိုင်လိုသည့် အဆိုပြုတင်ပြခြင်း၊

ရည်ညွှန်းချက်။ ဆောက်လုပ်ရေးဝန်ကြီးဌာန၏ ၁၉၉၉ခုနှစ်၊ဖေဖေါ်ဝါရီလ(၁၀)ရက် နေ့စွဲပါ စာအမှတ်၊ ၁ / ခွဲ-၂ /ထွေ/ ၉၉( စီ ၂၀၂ )

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ ရည်ညွှန်းစာဖြင့် သိန္နီ-ကွမ်းလုံ-ချင်းရွှေဟော် လမ်းအပိုင်း (၆၆ မိုင်)ကို Asia World Co., Ltd မှ ပြုပြင် ဖောက်လုပ်၍ လမ်း အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းကို ဆောင်ရွက်ရန်အတွက် အဆိုပြုတင်ပြခဲ့ပါသည်။

၂။ အထက်ပါအဆိုပြုချက်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ( ၆/၉၉) အကြိမ်မြောက် ကြိုတင်ညှိနှိုင်း အစည်းအဝေးမှ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ခဲ့ပါသဖြင့် လိုအပ်ချက်များကို ပြင်ဆင်ပြီး မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့် ချမှတ်ပေးနိုင်ပါရန် အဆိုပြုလွှာ (၂၅)စုံကို ပူးတွဲ ပေးပို့အပ်ပါသည်။

(signature)

ဝန်ကြီး( )

## မာတိကာ

# ASIA WORLD COMPANY LIMITED

NO. (61-62), BAHOSI DEVELOPMENT, WADAN STREET, LANMADAW TOWNSHIP, YANGON, MYANMAR

TEL : 225271, 220074, 225982, 225184, 222422 FAX . (95-1) 227474,227553 TLX . 21519 KKEI BM


စာအမှတ်။ AWC / MIC - 112A/ 99

ရက်စွဲ ။ ၁၉ - ၄ - ၉၉

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

အကြောင်းအရာ ။ ။ ကုမ္ပဏီ၏ အဆိုပြုချက်အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခွင့် ပြုပေးပါရန်လျှောက်ထားခြင်း။

ရည် ညွှန်း ချက် ။ ။ကုမ္ပဏီ၏ ၉-၂-၉၉ရက်စွဲပါ အဆိုပြုတင်ပြချက် စာအမှတ် AWC/MIC-050/ 99

၁။ ကျွန်တော်များ ASIA WORLD CO., LTD သည် သိန္နီ-ကွမ်းလုံ-ချင်းရွှေဟော် လမ်းအပိုင်းကို ပြုပြင်ဖေါက်လုပ်သည့် လုပ်ငန်းကို နယ်စပ်ဒေသများဖွံ့ဖြိုး တိုးတက်လာစေရေး၊ လမ်းပန်း ဆက်သွယ်မှု လုံခြုံချောမွေ့စေရေးနှင့် ကုန်စည်စီးဆင်းမှု မှန်ကန်မြန်ဆန်ရေး၊ ပြည်တွင်း၌ အလုပ်အကိုင်အခွင့် အလမ်းများ ရရှိလာစေရေးနှင့် နိုင်ငံတော်အနေဖြင့် ရသင့်ရထိုက်သည့် အခွန်ဘဏ္ဍာငွေများရရှိလာ စေရေး တို့အတွက် ရည်ရွယ်လျက် ရည်ညွှန်းချက်ပါ အဆိုပြုလွှာဖြင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ လုပ်ကိုင်ခွင့် ရရှိရန်အတွက် ခွင့်ပြုမိန့် လျှောက်ထားခဲ့ပါသည်။

၂။ အထက်ပါ ကုမ္ပဏီ၏အဆိုပြုလွှာကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ စိစစ်ပေးနိုင်ပါရန် အဆိုပြုလွှာ ( ၂၅) စုံကို လိုအပ်ချက်များ ပြင်ဆင်ပြီး တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

( ထွန်းမြင့်နိုင် )
အုပ်ချုပ်မှုဒါရိုက်တာ
အေးရှားဝေါ(လ်)ကုမ္ပဏီလီမိတက်

# ASIA WORLD COMPANY LIMITED

NO. (61-62), BAHOSI DEVELOPMENT, WADAN STREET, LANMADAW TOWNSHIP, YANGON, MYANMAR.

TEL : 225271, 225371, 225982, 225184, 222422   FAX : (95-1) 227474,227553   TLX : 21519 KKEI BM.

စာအမှတ်။ AWC / MIC -050A-99

ရက်စွဲ ။ ၉ - ၂ - ၉၉

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၊
ရန်ကုန်မြို့

အကြောင်းအရာ။ ။မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် ပတ်သက်၍ ကတိခံဝန်ချက် ။

၁။ အထက်အကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများဖြင့် ဖွဲ့စည်းထားသော ကျွန်တော်များ၏ Asia World Company Limited သည် သိန္နီ-ကွမ်းလုံ-ချင်းရွှေဟော် လမ်းအပိုင်းကို ပြုပြင်ဖေါက်လုပ်သည့် လုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ လုပ်ခွင့်ရရှိနိုင်ရန် လျှောက်ထားခြင်းဖြစ်ပါသည်။

၂။ ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပါသည်။ ဤလုပ်ငန်းကို နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှုမရှိကြောင်း ဝန်ခံ ကတိပြုအပ်ပါသည်။

၃။ ဤလုပ်ငန်းအတွက် နိုင်ငံခြားချေးငွေနှင့်ပတ်သက်၍ ကုမ္ပဏီနှင့် ချေးငှားသူတို့သာလျှင် သက်ဆိုင်ပြီး နိုင်ငံတော်နှင့် ပတ်သက်ခြင်းမရှိကြောင်း ဝန်ခံကတိပြုအပ်ပါသည်။

၄။ ထို့အပြင် မြေငှားရမ်းခြင်းနှင့်ပတ်သက်၍ နိုင်ငံတော်အစိုးရမှ သတ်မှတ်ပြဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာတောင်ရွက်ပါမည်ဟု ဝန်ခံ ကတိပြုပါသည်။

၅။ ဤအဆိုပြုလုပ်ငန်းသည် လုပ်ငန်းအသစ်ဖြစ်ကြောင်း ဝန်ခံ ကတိပြုပါသည်။

၆။ ဤအဆိုပြုလုပ်ငန်းတွင် သဘာဝပတ်ဝန်းကျင် အခြေအနေယုတ်လျော့မှု မရှိအောင် ထိန်းသိမ်းခြင်းနှင့် မီးဘေးအန္တရာယ် မကျရောက်ရန် ထိန်းသိမ်းသွားပါမည်။

ရိုသေလေးစားစွာဖြင့်

( ထွန်းမြင့်နိုင် )
အုပ်ချုပ်မှုဒါရိုက်တာ
အေးရှားဝေါ(လ်)ကုမ္ပဏီလီမိတက်

# ASIA WORLD COMPANY LIMITED

NO. (61-62), BAHOSI DEVELOPMENT, WADAN STREET, LANMADAW TOWNSHIP, YANGON, MYANMAR.

TEL : 225271, 225371, 225982, 225184, 222422   FAX : (95-1) 227474, 227553   TLX : 21519 KKE BM.


စာအမှတ်။ AWC / MIC -014 / 99

ရက်စွဲ ။ ၂၁ - ၁ - ၉၉

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ။ **မန္တလေး–လားရှိုး–မူဆယ် ပြည်ထောင်စု လမ်းမကြီးနှင့် ဆက်စပ်လမ်းဖြစ်သော သိန္နီ – ကွမ်းလုံ – ချင်းရွှေဟော် လမ်းအပိုင်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်နှင့် ဥပဒေပြဋ္ဌာန်းချက်များပါ သက်သာခွင့်များနှင့် အခွန်ကင်းလွတ်ခွင့် များ လျှောက်ထား အဆိုပြု တင်ပြချက်၊**

ရည်ညွှန်းချက် ။ ဆောက်လုပ်ရေးဝန်ကြီးဌာနသို့ ၂၁-၁-၉၉ရက်စွဲပါ ကုမ္ပဏီ၏ အဆိုပြုတင်ပြချက်

၁။ ကျွန်တော်များ Asia World Co.,Ltd မန္တလေး–လားရှိုး–မူဆယ် ပြည်ထောင်စုလမ်းမကြီး ကို ၁၉၉၆ခုနှစ်၌ လားရှိုး–မူဆယ် ( ၁၀၃ မိုင်၊ ၄ ဖါလုံ )လမ်းအပိုင်းကို၄င်း၊ ၁၉၉၈ခုနှစ်တွင် နောင်ချို–လားရှိုး( ၄၄မိုင်)လမ်းအပိုင်းကို၄င်း၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်များအရ ပြုပြင်ဖေါက်လုပ်၍ လမ်းတံတားအသုံးပြုခ ကောက်ခံသည့်လုပ်ငန်းကို ဆောင်ရွက်ခွင့် ရရှိခဲ့ရာ ယခုအခါလမ်းမကြီးမှာ ကျောက်ခင်း ကတ္တရာလမ်းအဖြစ် အောင်မြင်စွာ ဖေါက်လုပ်နိုင်ခဲ့ပြီး ဖြစ်ပါသည်။

၂။ ယခုအခါ ကျွန်တော်များကုမ္ပဏီသည် ကိုးကန့်နှင့် ဝ ဒေသများအား ပြည်မနှင့် ဆက်သွယ်ပေးမည့် မန္တလေး–လားရှိုး–မူဆယ် ပြည်ထောင်စုလမ်းမကြီးနှင့် အဓိက ဆက်စပ်လျှက်ရှိနေသည့် သိန္နီ – ကွမ်းလုံ– ချင်းရွှေဟော် လမ်းအပိုင်းကို ဒေသဖွံ့ဖြိုးရေးနှင့် ဘိန်းပပျောက်ရေးလုပ်ငန်းများတွင် အထောက်အကူပြု သွားနိုင်ရေးနှင့်၊ လမ်းပန်းဆက်သွယ်ရေး လုံခြုံချောမွေ့စေရေး တို့အတွက်ကို ရည်ရွယ်ပြီး၊ နိုင်ငံတော်၏ လိုအပ်ချက်နှင့်အညီ ရည်ညွှန်းချက်အဆိုပြုလွှာပါအတိုင်း ပြုပြင်ဖေါက်လုပ်၍ ရင်းနှီးမြှုပ်နှံ ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၃။ အဆိုပြုလုပ်ငန်းကို ကုမ္ပဏီအနေဖြင့် ပြည်တွင်းသုံးငွေ ကျပ်သန်း(၁၁၅၀)နှင့်၊နိုင်ငံခြားသုံးငွေ အမေရိကန်ဒေါ်လာ(၂၁)သန်း ရင်းနှီးမြှုပ်နှံ သွားမည်ဖြစ်ပါသည်။ အဆိုပါ လမ်းစီမံကိန်းသည် ရင်းနှီးမြှုပ်နှံမှုများ ပြားသည့်အလျောက် ကျပ်သန်း( ၅၅၀)ကို ကုမ္ပဏီမှ ထည့်ဝင်ရင်းနှီးပြီး၊ ကျပ်သန်း(၆၀၀)ကို ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာနမှ စီမံကိန်းချေးငွေဖြင့်၄င်း၊ နိုင်ငံခြားသုံးငွေ ကုန်ကြမ်းပစ္စည်းနှင့် စက်ယာဉ်ယန္တရားများ အတွက် အမေရိကန်ဒေါ်လာ (၂၁)သန်းအား စင်္ကာပူနိုင်ငံ S H Ng Trading မှ ရွှေ့ဆိုင်းငွေပေးချေရေးစနစ် ( Deferred Payment System) ဖြင့် (၁၀)နှစ် အတွင်းပြန်လည်ပေးဆပ်ပြီး၊ တစ်နှစ်လျှင်(၇%)အတိုးနှုန်းနှင့် ချေးယူ၍ ရင်းနှီးမြှုပ်နှံဆောင်ရွက်သွားမည် ဖြစ်ပါသည်။

ASIA WORLD COMPANY LIMITED

NO. (61-62), BAHOSI DEVELOPMENT, WADAN STREET, LANMADAW TOWNSHIP, YANGON, MYANMAR.

TEL : 225271, 225371, 225982, 225184, 222422 FAX : (95-1) 227474,227553 TLX : 21519 KKEI BM.



၄။ ကုမ္ပဏီ၏ အဆိုပြုသည့် လမ်းအပိုင်းသည် တောင်ပေါ်လမ်းဖြစ်သည့်အလျောက် ပြုပြင်ဖေါက်လုပ်ထိန်းသိမ်းရသည့် ရင်နှီးမြှုပ်နှံ ကုန်ကျငွေများပြားသဖြင့် ရင်နှီးငွေ ပြန်လည်ရရှိရေးအတွက် လမ်းတံတား အသုံးပြုခများ ကောက်ခံခြင်းမှ ရရှိမည့်ဝင်ငွေမှာ ယာဉ်သွားလာမှု အလွန်နည်းပါးသည့် လမ်းဖြစ်သည့်အတွက် နှစ်ရှည် လုပ်ငန်းဆောင်ရွက်ခွင့် ရရှိမှသာလျှင် ပြန်လည်ရရှိနိုင်မည်ပါသည်။ ကုမ္ပဏီအနေဖြင့် နိုင်ငံတော်၏ လိုအပ်ချက်အရ ကိုးကန့်နှင့် ဝဒေသများ ဖွံ့ဖြိုးရေး၊ နယ်စပ်ဒေသတွင် ဘိန်းပပျောက်ရေးအတွက် အစားထိုးသီးနှံများ အောင်မြင်စွာ စိုက်ပျိုးသွားနိုင်ရေး၊ ပြည်မနှင့် အချိန်တိုအတွင်း သွားလာနိုင်ခြင်းဖြင့် နိုင်ငံရေး၊စီးပွားရေး၊လူမှုရေး အဆင့်အတန်း မြင့်မားလာရေးတို့အတွက်ကို အဓိက ရည်ရွယ်ချက်ဖြင့် အဆိုပြု လမ်းအပိုင်းအား ဖေါက်လုပ်သွားမည် ဖြစ်သည့်အတွက် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)အပိုဒ် ၁၃(၄)တွင်သတ်မှတ် ပြဋ္ဌာန်းပေးထားသည့်အတိုင်း လုပ်ငန်းလုပ်ကိုင်ခွင့်အား နှစ်(၅၀) အထိ၎င်း၊ လမ်းတံတား အသုံးပြုခ ကောက်ခံဆောင်ရွက်ရာတွင် ပထမ(၁၀)နှစ်အား ကုန်သွယ်လုပ်ငန်းခွန်နှင့် အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် ပြုပေးပါရန် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထား အပ်ပါသည်။

၅။ ကုမ္ပဏီ၏အဆိုပြုချက်ကို ခွင့်ပြုပါက မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)ပုဒ်မ ၁၂ နှင့် ၁၃ တို့အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို၎င်း၊ ယင်းဥပဒေ အခန်း(၆)ပုဒ်မ ၁၁၊ (ဃ) (င)နှင့်(စ) တို့အရ အထောက်အကူပြု လုပ်ငန်းများကို၎င်း ခွင့်ပြုပေးပါရန် လျှောက်ထားအပ်ပါသည်။

၆။ ကုမ္ပဏီ၏ အဆိုပြုလွှာနှင့် အောက်ပါ အထောက်အထား စာရွက်စာတမ်းများကို ပူးတွဲတင်ပြ လျှောက်ထားအပ်ပါသည်။

(၁) မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုအဆိုပြုချက်
(၂) ဘဏ္ဍာရေးဆိုင်ရာတွက်ချက်မှုစရင်းဇယားများ
(၃) လုပ်ငန်းပိုင်းနှင့်ငွေကြေးအထောက်အထားများ
(၄) ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများ

ရိုး သေ လေး စား စွာ ဖြင့်

( ထွန်းမြင့်နိုင် )
အုပ်ချုပ်မှုဒါရိုက်တာ
အေးရှားဝေါ(လ်)ကုမ္ပဏီလီမိတက်

# ASIA WORLD COMPANY LIMITED

NO. (61-62), BAHOSI DEVELOPMENT, WADAN STREET, LANMADAW TOWNSHIP, YANGON, MYANMAR.

TEL : 225271, 225371, 225982, 225184, 222422 FAX : (95-1) 227474,227553 TLX : 21519 KKEI BM.


စာအမှတ်။ AWC / Road -012 / 99

ရက်စွဲ ။ ၂၁ - ၁ - ၉၉

သို့

ဝန်ကြီး

ဆောက်လုပ်ရေးဝန်ကြီးဌာန

ရန်ကုန်မြို့

အကြောင်းအရာ။ **မန္တလေး–လားရှိုး–မူဆယ် ပြည်ထောင်စု လမ်းမကြီးနှင့် ဆက်စပ်လမ်းဖြစ်သော သိန္နီ – ကွမ်းလုံ – ချင်းရွှေဟော် လမ်းအပိုင်းအား ပြုပြင်ဖေါက်လုပ် လုပ်ငန်း လုပ်ကိုင်လိုသည့် အဆိုပြု တင်ပြချက်**

၁။ ကျွန်တော်များ Asia World Co.,Ltd သည် မန္တလေး–လားရှိုး–မူဆယ် ပြည်ထောင်စုလမ်းမကြီး ကို ၁၉၉၆ခုနှစ်၌ လားရှိုး–မူဆယ် (၁၀၃မိုင်၊ ၄ဖါလုံ)လမ်းအပိုင်းကို၄င်း၊ ၁၉၉၈ခုနှစ်တွင် နောင်ချို–လားရှိုး (၄၄မိုင်)လမ်းအပိုင်းကို၄င်း၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းနှင့် သဘောတူချုပ်ဆိုခဲ့သည့် ပဋိညာဉ်စာချုပ် များအရ ပြုပြင်ဖေါက်လုပ်၍ လမ်းတံတားအသုံးပြုခ ကောက်ခံသည့်လုပ်ငန်းကို ဆောင်ရွက်ခွင့် ရရှိခဲ့ရာ ယခုအခါလမ်းမကြီးမှာ ကျောက်ခင်းကတ္တရာလမ်းအဖြစ် အောင်မြင်စွာ ဖေါက်လုပ်နိုင်ခဲ့ပြီး ဖြစ်ပါသည်။

၂။ ယခုအခါ ကိုးကန့်နှင့် ဝ ဒေသများ ဖွံ့ဖြိုးရေးနှင့် ဘိန်းပပျောက်ရေးလုပ်ငန်းများကို အထောက်အ ကူပြု သွားနိုင်ရေးနှင့်၊ လမ်းပန်းဆက်သွယ်ရေးလုံခြုံချောမွေ့စေရေး တို့အတွက်ကို ရည်ရွယ်ပြီး၊ ၄င်းဒေသ နှင့် ပြည်မအား ဆက်သွယ်ပေးမည့် မန္တလေး–လားရှိုး–မူဆယ်လမ်းအပိုင်းနှင့် အဓိက ဆက်စပ်လျှက်ရှိနေ သည့် သိန္နီ–ကွမ်းလုံ–ချင်းရွှေဟော် (၆၆မိုင်)လမ်းအပိုင်းကို ကျွန်တော်တို့အနေဖြင့် နိုင်ငံတော်၏ လိုအပ် ချက်နှင့်အညီ ပြုပြင်ဖေါက်လုပ် အကောင်အထည်ဖေါ် ဆောင်ရွက်သွားလိုသည့် ဆန္ဒများရှိနေပါသည်။

၃။ သိန္နီ–ကွမ်းလုံ–ချင်းရွှေဟော် လမ်းအပိုင်းကို ပဏာမလေ့လာမှုများ ပြုလုပ်ခဲ့ရာတွင် လက်ရှိ အခြေ အနေမှာ လမ်းအရှည် ၆၆–မိုင်၊ လမ်းအကျယ် (၁၀ ပေ မှ ၁၂ ပေ) အတွင်းရှိပြီး၊ ပေ–၁၀၀ အထက် တံတားကြီး (၂–စင်း)၊ ပေ(၁၀၀)အောက် တံတား(၄၅)စင်း၊ လမ်းဖြတ်ရေမြှုန် (၁၁၅)ခု ပါဝင်၍ အချို့နေ ရာတွင် ကျောက်ခင်းလမ်းမှလွဲ၍ ကျန်အပိုင်းများမှာ မြေလမ်းများ ဖြစ်နေသည့်အတွက် ယာဉ်သွားလာမှုမှာ အလွန်ခက်ခဲလျက်ရှိကြောင်း တွေ့ရှိရပါသည်။ ထို့အတွက် ယာဉ်များ ကောင်းမွန်စွာသွားလာနိုင်ရန် ကျွန်တော် များအနေဖြင့် ပြုပြင်ဖေါက်လုပ်သွားလိုပါသည်။

၄။ လမ်းဖေါက်လုပ်ခြင်းလုပ်ငန်းနှင့်ပတ်သက်၍ မိမိတို့အနေဖြင့် ၁၉၉၆ခုနှစ်တွင် စတင်အကောင် အ ထည်ဖေါ် ဖေါက်လုပ်ခဲ့သည့် မန္တလေး–လားရှိုး–မူဆယ် ပြည်ထောင်စုလမ်းကြီး၏ မိုင်ပေါင်း (၁၄၇မိုင်၊ ၄ ဖါလုံ) လမ်းအရှည်ရှိ စီမံကိန်းလမ်းကို အောင်မြင်စွာ ဖေါက်လုပ်ခဲ့စဉ် ရရှိခဲ့သည့် အတွေ့အကြုံများအပြင်၊ လုပ်ငန်းကျွမ်းကျင်သူ အင်ဂျင်နီယာများနှင့် လမ်းဖေါက်လုပ်ရာတွင် လိုအပ်သော စက်၊ယာဉ်၊ ယန္တရားကြီး များကိုလည်း အရံသင့်ရှိနေပြီးဖြစ်ပါသည်။ သို့အတွက် သိန္နီ–ကွမ်းလုံ–ချင်းရွှေဟော် လမ်းအပိုင်းကို ပြုပြင် ဖေါက်လုပ်ခွင့် ရရှိမည်ဆိုပါက ပြည်ပမှ ကတ္တရာများ၊တံတား သံဘောင်များ၊ စက်သုံးဆီများ မှာယူ တင်သွင်း ခြင်း၊ မိမိတို့တွင် ရှိပြီးဖြစ်သည့် အထက်ဖေါ်ပြပါ လုပ်ငန်းအတွေ့အကြုံများ၊ စက်ယာဉ် ယန္တရားများနှင့်

ဒေသများမှ ကျောက်ထုတ်လုပ်ခြင်းလုပ်ငန်းနှင့် လိုအပ်သောငွေကြေးများကို သုံးစွဲသွားပါက အောင်မြင်စွာ ဖေါက်လုပ် သွားနိုင်မည်ဖြစ်ပါသည်။

၅။ အဆိုပါ သိန္နီ-ကွမ်းလုံ-ချင်းရွှေဟော် လမ်းအပိုင်းကို လေ့လာတွေ့ရှိချက်အရ နေ့စဉ် ယာဉ် ဖြတ်သန်းမှုစီးရေမှာ (၁၀၀)မှ(၂၀၀)ခန့် သာရှိပြီး အများစုမှာ ယာဉ်ငယ် များသာဖြစ်၍၊ နယ်စပ်ဒေသသို့ သွားလာနေသည့် ယာဉ်ကြီး မှာ(၁၀စီး)မှ(၂၀စီး)ခန့်သာ ရှိသည့်အတွက် အောက်ပါအတိုင်း အဆင့်လိုက် ပြုပြင် ဖေါက်လုပ် သွားလိုပါသည် -

(က) ပထမအဆင့်အဖြစ် အကျယ်(၁၂-ပေ)၊ တစ်ဖက်လျှင်(၃-ပေ)စီရှိသော ကျောက်အမာခံ လမ်းပုခုံးပါရှိသည့် စုစုပေါင်းလမ်းအကျယ် (၁၈-ပေ)ရှိ ကျောက်ခင်း ကတ္တရာလမ်းအဖြစ် ဖေါက်လုပ်ခြင်းနှင့် လက်ရှိတံတားများကို ယာဉ်နှစ်စင်း ရှောင်နိုင်ရန်နှင့် ခံနိုင်ရည်ရှိသည်အထိ ပြုပြင် တည်ဆောက်ရန်၊

(ခ) ဒုတိယအဆင့်အနေဖြင့် နယ်မြေဒေသဖွံ့ဖြိုးမှုနှင့် ယာဉ်သွားလာမှု နေ့စဉ်စီးရေ(၁၅၀၀) အထိ တိုးတက်လာသည့်အခါတွင် လမ်းအကျယ်(၁၈-ပေ)၊လမ်းပုခုံးတစ်ဖက်လျှင်(၄-ပေ)ဖြင့် စုစုပေါင်း လမ်းအကျယ် (၂၆-ပေ)ရှိ နှစ်လမ်းသွားလမ်းအဖြစ် ထပ်မံတိုးချဲ့၍ ပြုပြင်ဖေါက်လုပ်ရန်၊

(ဂ) တတိယ အဆင့်အဖြစ် ယာဉ်သွားလာမှု နေ့စဉ်စီးရေ (၂၅၀၀)အထိ တိုးတက်လာ သည့်အခါတွင် နိုင်လွန် ကတ္တရာလမ်း အဆင့်အထိ ပြုပြင်ဖေါက်လုပ်ရန်။

၆။ အဆိုပြုလမ်းအပိုင်းအတွက် လမ်းနယ်နိမိတ်အား ကျေးရွာများတွင် ဖြတ်သန်းသည့် နေရာများမှအပ ပေ(၂၀၀)အကျယ် သတ်မှတ်ပြီး၊ မြို့များအတွင်းတွင် သက်ဆိုင်ရာ မြို့နယ်စည်ပင်သာယာရေးအဖွဲ့၏ လမ်းနယ်နိမိတ်အတိုင်း ဖြစ်ပါသည်။

၇။ လမ်းစီမံကိန်းကို ကျွန်တော်များကုမ္ပဏီအနေဖြင့် ပြည်တွင်းသုံးငွေ ကျပ်သန်း( ၁၁၅၀)နှင့် နိုင်ငံခြားသုံးငွေ အမေရိကန်ဒေါ်လာ(၂၁)သန်း အကုန်အကျခံ ရင်းနှီးမြှုပ်နှံသွားမည် ဖြစ်ပါသည်။ စီမံကိန်းရင်းနှီးမြှုပ်နှံမှု များပြားသည့်အလျောက် ပြည်တွင်းသုံးငွေကို ကုမ္ပဏီမှ ကျပ်သန်း( ၅၅၀) ထည့်ဝင်ရင်းနှီးပြီး၊ ကျန်ရင်းနှီးငွေကို ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာနမှ စီမံကိန်းချေးငွေ ဖြင့်၄င်း၊ နိုင်ငံခြားသုံးငွေ အမေရိကန်ဒေါ်လာ (၂၁)သန်းအား Machinery /Equipment & Marerial အတွက် (US$-5.660 Million )နှင့် Cash Loan US$ 15.34 Millionကို ပြည်ပမှချေးယူ၍၄င်း အကောင်အထည်ဖေါ် ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

၈။ အဆိုပါလမ်းစီမံကိန်းမှာ ရင်းနှီးရမည့် ငွေကြေးများပြားခြင်း၊ တောင်ပေါ်လမ်း ဖြစ်သည့်အတွက် ပြုပြင် ထိန်းသိမ်းရမည့် စရိတ်များပြားခြင်း တို့ကြောင့် ငွေကြေးအမြောက်အမြား ကုန်ကျရမည်ဖြစ်သည့်အပြင် ကုမ္ပဏီအနေဖြင့်လည်း နိုင်ငံတော်၏ လိုအပ်ချက်အရ ပြုပြင်ဖေါက်လုပ်သွားရမည် ဖြစ်ပါသဖြင့် ရင်းနှီးငွေများ ပြန်လည်ရရှိနိုင်ရေးအတွက် လမ်းတံတားအသုံးပြုခများ ကောက်ခံသည့် လုပ်ငန်းကိုပါ ခွင့်ပြုပေးစေလိုပါသည်။ မန္တလေး-လားရှိုး-မူဆယ် ပြည်ထောင်စုလမ်းမကြီးတွင် လမ်းတံတားအသုံးပြုခများ ကောက်ခံခြင်းဖြင့် ကောက်ခံခွင့်ပြုထားသည့် နှစ်ကာလအတွင်း ရင်းနှီးငွေများပြန်လည် ရရှိနိုင်သော်လည်း၊ ယခုလမ်းအပိုင်းတွင်မူ ယာဉ်သွားလာမှုအလွန် နည်းပါးသဖြင့် အဆိုပါလမ်းကိုသတ်မှတ်ကာလထက် နှစ်ရှည် ကောက်ခံဆောင်ရွက်ခွင့် ရရှိမှသာလျှင် ရင်းနှီးငွေများ ပြန်လည်ရရှိနိုင်မည်ဖြစ်ပါ၍ လမ်းတံတားအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းနှင့် အခြားအကျိုးခံစားခွင့်များကို နှစ်ပေါင်း(၅၀)ထိ ဆောင်ရွက်သွားလိုပါသည်။

၉။ အဆိုပါ လမ်းအပိုင်းအတွက် လမ်းတံတား အသုံးပြုခများကို ပထမအဆင့်အဖြစ် အကျယ်(၁၂-ပေ)၊ တစ်ဖက်လျှင်(၃-ပေ)စီ လမ်းပုခုံးပါရှိသည့် စုစုပေါင်းလမ်းအကျယ်(၁၈-ပေ)ရှိသော ကျောက်ခင်း ကတ္တရာလမ်း အဖြစ် ဖေါက်လုပ် ပြီးစီးချိန်မှစ၍ အောက်ပါ နှုန်းထားများအတိုင်း သတ်မှတ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံသည့် ဂိတ်(၃)ခုဖြင့် ကောက်ခံခွင့်ပြုစေလိုပါသည်။

| စဉ် | ယာဉ်အမျိုးအစား | နှုန်းထား ( ယာဉ်တစ်စီးလျှင်) |
|---|---|---|
| (၁) | ယာဉ်ငယ် ( ၁ တန်အောက်) | ၂၀၀ ကျပ် |
| (၂) | ယာဉ်လတ် ( ၁ တန်နှင့် ၂ ³/₄ တန်အထိ | ၅၀၀ ကျပ် |
| (၃) | ခရီးသည်တင်ကားကြီး | ၈၀၀ ကျပ် |
| (၄) | ကုန်တင်ယာဉ်များ (အလတ်)(၁၀တန်အထိ) | ၁၅၀၀ ကျပ် |
| (၅) | ကုန်တင်ယာဉ်များ (အကြီး)(၂၀တန်အထိ) | ၃၀၀၀ ကျပ် |

( တန် ၂၀နှင့်အထက်ယာဉ်များသည် နောက်ထပ်ပိုသော တစ်တန် တိုင်းအတွက် ကျပ်-၃၀၀ ထပ်မံပေးဆောင်ရမည် )

၁၀။ အထက်တွင် တင်ပြခဲ့သည့်အတိုင်း ယာဉ်သွားလာမှု နည်းပါးခြင်းနှင့် ရင်းနှီးမြှုပ်နှံရသည့် ငွေကြေး များခြင်း တို့ကြောင့် နိုင်ငံတော်သို့ ထည့်ဝင်ငွေ ပေးသွင်းရမှုကို (၁၀)နှစ် ကင်းလွတ်ခွင့် သတ်မှတ်ပြီး အောက်ပါအတိုင်း ပေးသွင်းမည်ဖြစ်ပါသည်-

(က) ၁ နှစ်မြောက်မှ ၁၀ နှစ်မြောက်ထိ (၁၀)နှစ် (အခွန်ကင်းလွတ်ခွင့် )
(ခ) ၁၁ နှစ်မြောက်မှ ၂၃ နှစ်မြောက်ထိ (၁၃)နှစ် ၁၀ %
(ဂ) ၂၄ နှစ်မြောက်မှ ၃၆ နှစ်မြောက်ထိ (၁၃)နှစ် ၁၅ %
(ဃ) ၃၇ နှစ်မြောက်မှ ၅၀ နှစ်မြောက်ထိ (၁၄)နှစ် ၂၀ %

၁၁။ လမ်းစီမံကိန်းတွင် လိုအပ်သောကျောက်များကို အနီးဝန်းကျင်ဒေသရှိ ကျောက်ထုတ်လုပ်နိုင်သည့် ကျောက်တောင်များမှ ကျောက်ထုတ်လုပ်ခွင့်ပြုနိုင်ရေးနှင့် လမ်းတစ်လျှောက်တွင် ယာဉ်နှင့် ခရီးသွားများ ရပ်နားရန်စခန်းများတည်ဆောက်သွားနိုင်ရေးတို့ကို ခွင့်ပြုချက်များတင်ပြပြီး ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၁၂။ အဆိုပြုလမ်းအပိုင်း ပြုပြင်ဖေါက်လုပ်ရေး လုပ်ငန်းစီမံကိန်းအတွက် အသုံးပြုသွားမည့် စက်၊ယာဉ် ယန္တရားများ၊ လုပ်ငန်းကုန်ကျ စရိတ်များနှင့်တွက်ချက်မှု ဆိုင်ရာစရင်းဇယားများကို ပူးတွဲ၍ တင်ပြအပ်ပါ သည်။ ကုမ္ပဏီ၏ အဆိုပြုချက်ကို ဆောက်လုပ်ရေးဝန်ကြီးဌာနမှ သဘောတူခွင့်ပြုချက် ရရှိပါက မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ဆက်လက်တင်ပြ၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို တင်ပြ လျှောက်ထား သွားမည်ဖြစ်ပါကြောင်း အဆိုပြုတင်ပြ အပ်ပါသည်။

လေးစားစွာဖြင့်

( ထွန်း[illegible]နိုင် )
အုပ်ချုပ်မှုဒါရိုက်တာ
အေးရှားဝေါ(လ်)ကုမ္ပဏီလီမိတက်

မိတ္တူကို-

(၁) တိုင်းမှူး (အရှေ့မြောက်ပိုင်းတိုင်းစစ်ဌာနချုပ်)
(၂) ဒုတိယဝန်ကြီး (ဆောက်လုပ်ရေးဝန်ကြီးဌာန)
(၃) ဦးဆောင်ညွှန်ကြားရေးမှူး ( ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း)

# ASIA WORLD COMPANY LIMITED

NO (61-62), BAHOSI DEVELOPMENT, WADAN STREET, LANMADAW TOWNSHIP, YANGON, MYANMAR
TEL : 225271, 220074, 225982, 225184, 222422    FAX : 95-1-227474, 227553    TLX : 21519 EHL BM

စာအမှတ်။ AWC / ၁၈၉ / ၉၉
ရက်စွဲ ။ - ၃ - ၉၉

သို့

အတွင်းရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ ။ **ကုမ္ပဏီ၏ အမည် နှင့်ပတ်သက်၍ ရှင်းလင်းတင်ပြချက်**

၁။ ကျွန်တော်များ Asia World Company Limited သည် ကုမ္ပဏီမှတ်ပုံတင်အမှတ် ၁၂၀/၁၉၉၂-၁၉၉၃ ရက်စွဲ ၅-၆-၉၂အရ တိုင်းရင်းသားလုပ်ငန်းရှင်များဖြင့် ဖွဲ့စည်းတည်ထောင်ထားသည့် လီမိတက်ကုမ္ပဏီ တစ်ခုဖြစ်ပါသည်။

၂။ ကုမ္ပဏီ၏ အမည်ကို Asia World Company Limited ဟု သတ်မှတ် ခေါ်တွင်ထားခြင်းမှာ တိုင်းရင်းသားလုပ်ငန်းရှင် မိမိတို့အနေဖြင့် စီးပွားရေးလုပ်ငန်းများကို အာရှတိုက်မှ ကမ္ဘာကြီးတစ်ခုလုံးအထိ ပြန့်နှံ့ လုပ်ကိုင်သွားနိုင်ရန် ရည်ရွယ်သည့် အဓိပ္ပါယ်ဖြင့် မှည့်ခေါ်ထားခြင်း ဖြစ်ပါကြောင်း လေးစားစွာ ရှင်းလင်းတင်ပြ အပ်ပါသည်။

ရိုးသေလေးစားစွာဖြင့်

( ထွန်းမြင့်နိုင် )
အုပ်ချုပ်မှုဒါရိုက်တာ
အေးရှားဝေါ(လ်)ကုမ္ပဏီလီမိတက်

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# ရင်းနှီးမြှုပ်နှံလိုသူ၏

# အဆိုပြုချက်

ပုံစံ (မနသ-၁)

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ
ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်
( ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဂ) နှင့် ပုဒ်မ ၈ )

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

စာအမှတ်။ AWC / MIC-112 / 99
ရက်စွဲ ။ ၁၉ - ၀၄ - ၉၉

ကျွန်တော်သည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးပါရန် အောက်ပါအချက်များကို ဖော်ပြ၍လျှောက်ထားအပ်ပါသည်-

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏ -

(က) အမည် - ဦးထွန်းမြင့်နိုင်
(ခ) အဖအမည် - ဦးလောစစ်ဟန်
(ဂ) နိုင်ငံသား၊အမျိုးသားမှတ်ပုံတင်အမှတ် - ၁၂/မရက(နိုင်) ၁၀၁၆၃၅
(ဃ) နေရပ်လိပ်စာ - အမှတ် ( ၂၀၊၂၃ )၊မစိုးရိမ်ကျောင်းလမ်း၊ (၅)ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့။
(င) လူမျိုး၊ ဘာသာ - ကိုးကန့် ၊ ဗုဒ္ဓဘာသာ။
(စ) အဖွဲ့အစည်းအမည် - အေးရှားဝေါ(လ်)ကုမ္ပဏီလီမိတက်။
(ဆ) လုပ်ငန်းအမျိုးအစား - အထွေထွေရောင်းဝယ်ရေးဆောက်လုပ်ရေးလုပ်ငန်း၊စက်မှုလက်မှုလုပ်ငန်း။
(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် - အမှတ်(၆၁-၆၂)ဗဟိုစည်ရိပ်သာ၊ဝါးတန်းလမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုလုပ်မည့် သူများ၏- - မရှိပါ။

(က) အမည် -
(ခ) အဖအမည် -
(ဂ) နိုင်ငံသား၊အမျိုးသာမှတ်ပုံတင်အမှတ် -
(ဃ) နေရပ်လိပ်စာ -
(င) လူမျိုး၊ ဘာသာ -
(စ) အဖွဲ့အစည်းအမည် -
(ဆ) လုပ်ငန်းအမျိုးအစား -
(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် -

(နှစ်ဦး သို့မဟုတ် အဖွဲ့အစည်း ၂ခု ထက်ပိုပါက သီးခြားစာရွက်တွင် ဖော်ပြ ပူးတွဲရန်)

၃။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်လုပ်ငန်းအမျိုးအစား -

(က) ကုန်ထုတ်လုပ်မှုလုပ်ငန်း -

(ခ) ဝန်ဆောင်မှုလုပ်ငန်း - သိန္နီ-ကွမ်းလုံ-ချင်းရွှေဟော်လမ်းအပိုင်း ပြုပြင်ဖေါက်လုပ်၍ လမ်းတံတားအသုံးပြုခကောက်ခံသည့်လုပ်ငန်း။

၄။ လုပ်ကိုင်မည့်စီးပွားရေးပုံစံ -

(က) နိုင်ငံသားနှင့် နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း - လီမိတက်ကုမ္ပဏီ( နောက်ဆက်တွဲ - ၁ )

(ခ) အဖွဲ့အစည်းနှင့်နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း -

(ဂ) အဖွဲ့အစည်းနှင့်အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင် ဆောင်ရွက်ခြင်း -

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့်စီးပွားရေးအဖွဲ့အစည်း ပုံသဏ္ဍာန် -

(က) တစ်ဦးတည်းပိုင် -

(ခ) ဖက်စပ်၊အစုစပ်လုပ်ငန်း -

(ဂ) လီမိတက်ကုမ္ပဏီ - အေးရှားဝေါ(လ်)ကုမ္ပဏီလီမိတက် (နောက်ဆက်တွဲ-၁)

(ဃ) သမဝါယမအသင်း -

၆။ ဖက်စပ် ၊ အစုစပ်လုပ်ငန်းဖြစ်ပါက -

(က) အစုစပ်တို့က ထည့်ဝင်မည့်အစုငွေအမျိုးအစားနှင့်ပမာဏ - --------------------------------

(ခ) အကျိုးအမြတ် ခွဲဝေမည့် အမျိုးအစား - --------------------------------

(ဂ) အစုဝင်များ၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များ- --------------------------------

( နေရာမလုံလောက်က သီးခြားစာရွက်ဖြင့်ဖော်ပြရန် )။

၇။ လီမိတက်ကုမ္ပဏီဖြစ်ပါက -

(က) ခွင့်ပြု မတည်ငွေရင်း - ကျပ်-၁.၀၀၀.၀၀၀.၀၀၀(ကျပ်သန်းတစ်ထောင်တိတိ)

(ခ) အစုရှယ်ယာ အမျိုးအစား - တစ်စုလျှင် ကျပ်-၁၀.၀၀၀(ကျပ်တစ်သောင်းတိတိ) တန် သာမန်အရှယ်ယာ ၁၀၀.၀၀၀/-(ကျပ်တစ်သိန်း)

(ဂ) အစုရှယ်ယာဝင်များကထည့်ဝင်မည့်- ကျပ်-၅၅၀.၀၀၀.၀၀၀(ကျပ်သန်း၊ငါးရာ ငါးဆယ်တိတိ ) အစုရှယ်ယာပမာဏ တစ်စုလျှင် ကျပ်(၁၀.၀၀၀) တန် အစုရှယ်ယာ(၅၅.၀၀၀)

၈။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် အဖွဲ့အစည်းနှင့် သက်ဆိုင်သော အချက်အလက်များ -

(က) မတည်ရင်းနှီးငွေပမာ (ယခုအဆိုပြုလုပ်ငန်းအတွက်) ( ကျပ်ထောင်ပေါင်း )

| | ကိုယ်ပိုင် | ချေးငွေ ပြည်တွင်း | ချေးငွေ ပြည်ပ | စုစုပေါင်း |
|---|---|---|---|---|
| (၁) ငွေပမာဏ | ၅၅၀၀၀၀ | ၆၀၀၀၀၀ | ၉၄၈၉၆ | ၁၂၄၄၈၉၆ |
| (၂) စက်ပစ္စည်းကိရိယာများ (နောက်ဆက်တွဲ ဇယား - ၂ ) | - | - | ၇၃၄၄ | ၇၃၄၄ |
| (၃) အဆောက်အဦးများ၊မြေ | - | - | - | - |
| (၄) ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ | - | - | - | - |
| (၅) ကုန်ကြမ်းပစ္စည်းတန်ဖိုးပမာ (နောက်ဆက်တွဲ ဇယား - ၃ ) | - | - | ၂၃၇၆၀ | ၂၃၇၆၀ |
| စုစုပေါင်းထည့်ဝင်ရင်းနှီးငွေ | ၅၅၀၀၀၀ | ၆၀၀၀၀၀ | ၁၂၆၀၀၀ | ၁၂၇၆၀၀၀ |

မှတ်ချက်။ ငွေသားချေးငွေကျပ် ၉၄.၈၉၆ သန်း၊ စက်ပစ္စည်းကိရိယာ ကျပ် ၇.၃၄၄ သန်း၊ ကုန်ကြမ်းပစ္စည်း ကျပ်၂၃.၇၆ သန်း၊ စုစုပေါင်းကျပ် သန်း(၁၂၆)သည် အမေရိကန်ဒေါ်လာ (၂၁)သန်းနှင့် ညီမျှသော မြန်မာကျပ်ငွေ ဖြင့်ဖော်ပြထားခြင်းဖြစ်ပါသည်။ အဆိုပါ အမေရိကန်ဒေါ်လာ(၂၁)သန်းကို စင်ကာပူနိုင်ငံ S H NG TRADING မှ ရွှေ့ဆိုင်းငွေပေးချေစနစ်အရ (၁၀)နှစ်အတွင်း ပြန်ဆပ်ရန်နှင့် တစ်နှစ်လျှင် (၇%) အတိုးဖြင့် ရယူပါမည်။ ပြည်တွင်းသုံးငွေ ကျပ်သန်း(၆၀၀)ကို တစ်နှစ်လျှင်(၁၆.၅၀%)အတိုးဖြင့် ပြည်တွင်းမှ ချေးယူပါမည်။

(ခ) နိုင်ငံခြားမှတင်သွင်းရန် လိုအပ်သည့် -

| | ကျပ်ထောင်ပေါင်း | အမေရိကန်ဒေါ်လာ(သန်း) |
|---|---|---|
| (၁) စက်ပစ္စည်းများ၊ စက်ကိရိယာများ စသည့် ပစ္စည်းတို့၏ တန်ဖိုးပမာဏ ( နောက်ဆက်တွဲ ဇယား - ၂ ) | ၇၃၄၄ | ၁.၂၂၄ |
| (၂) ကုန်ကြမ်းပစ္စည်းများနှင့် အခြားအလားတူ ပစ္စည်းများနှင့်တန်ဖိုး (နောက်ဆက်တွဲ ဇယား-၃) | ၂၃၇၆၀ | ၃.၉၆၀ |
| (၃) ငွေသားချေးငွေ ပမာဏ | ၉၄၈၉၆ | ၁၅.၈၁၆ |
| စုစုပေါင်း နိုင်ငံခြားငွေ ပမာဏ | ၁၂၆၀၀၀ | ၂၁.၀၀၀ |

(ဂ) တည်ဆောက်မှုကာလ - ( ၃၆ ) လ

(ဃ) ပဏာမစူးစမ်းလေ့လာမှုပြုလုပ်မည့်ကာလ - ( ၆ ) လ

(င) တည်ဆောက်မှုစတင်မည့်အချိန် - မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့်ရရှိပြီး၊ ပဋိညာဉ်စာချုပ် အကျိုးသက်ရောက်သည့်နေ့မှ စတင်ဆောင်ရွက်သွားပါမည်။

၉။ ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းနှင့်သက်ဆိုင်သော အချက်အလက်များ

(က) လုပ်ငန်းအမျိုးအစား (ကုန်ထုတ်လုပ်မှု၊ဝန်ဆောင်မှုစသည့်တို့ကိုဖော်ပြရန်) - သိန္နီ-ကွမ်းလုံ-ချင်းရွှေဟော် လမ်းအပိုင်းပြုပြင် ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခများ ကောက်ခံခြင်းလုပ်ငန်း။

(၁) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသများ - သိန္နီ-ကွမ်းလုံ-ချင်းရွှေဟော် ဒေသ။

(ဂ) ဆောင်ရွက်ပုံနည်းစနစ်

(ဃ) နှစ်စဉ်စက်သုံးဆီလိုအပ်ချက်

| အမျိုးအမည် | အရေအတွက် |
|---|---|
| ၁။ ဒီဇယ်ဆီ | - ဂါလံ ( ၂၅၀၀၀၀၀ ) |
| ၂။ ဓါတ်ဆီ | - ဂါလံ ( ၂၀၀၀၀ ) |
| ၃။ စက်ဆီ၊ချောဆီ | - ဂါလံ ( ၁၀၀၀၀ ) |

(င) နှစ်စဉ်လျှပ်စစ်ဓါတ်အား လိုအပ်ချက်အားအသုံးပြုမှု

၁။ လျှပ်စစ်ဓါတ်အား - ၁.၀၀၀.၀၀၀ ၊

၂။ ဓါတ်ဆီ၊ဒီဇယ် အင်ဂျင်စက်အင်အား - (၆၂၅)ကေဗွီအေ

၃။ ဘွိုင်လာအသုံးပြု အင်ဂျင်စက်အင်အား - -

၄။ သဘာဝဓါတ်ငွေ့သုံးအင်အား - -

၅။ ပေးပို့သည့်အခြားအား - -

(ရေအား၊လေအား စသည်များ)

(စ) နှစ်စဉ်ရေလိုအပ်ချက်

(နေ့စဉ် ရေလိုအပ်ချက်ရှိလျှင် ဖော်ပြရန်)

၁။ တစ်နေ့ ရေလိုအပ်ချက် - ဂါလံ ( ၁၀၀၀ )

၂။ တစ်နှစ် ရေလိုအပ်ချက် - ဂါလံ ( ၅ သန်း )

(ဆ) နှစ်စဉ်လုပ်ငန်းပစ္စည်း၊ကုန်ကြမ်းလိုအပ်ချက်

| အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး |
|---|---|---|---|
| ၁။ အဓိကကုန်ကြမ်း | | | |
| (၁)----------- | ------- | ---------- | ------- |
| (၂)----------- | ------- | ---------- | ------- |
| ၂။ အထောက်အကူကုန်ကြမ်း | | | |
| (၁)----------- | ------- | ---------- | ------ |
| (၂)----------- | ------- | ---------- | ------ |
| ၃။ ဓါတ်ဆီသုံး၊ ဓါတ်ငွေ့များ | | | |
| (၁)----------- | ------- | ---------- | ------ |
| (၂)----------- | ------- | ---------- | ------ |

(ဇ) အဆောက်အအုံလိုအပ်ချက် -

(ဈ) မြေနေရာအမျိုးအစားနှင့်အကျယ်အဝန်းလိုအပ်ချက် -

(ည) ခန့်မှန်းထုတ်လုပ်မည့် ကုန်ပစ္စည်း၊ဆောင်ရွက်မည့်ဝန်ဆောင်မှု

| အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး |
|---|---|---|---|

(နောက်ဆက်တွဲ ဇယား(၅)တွင် ဖော်ပြထားသည်။)

(ဋ) ရောင်းချမည့်နည်းစနစ် - မရှိပါ။

၁၀။ နှစ်စဉ် ကုန်ထုတ်လုပ်မှု၊ဝန်ဆောင်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ - (ခန့်မှန်းခြေ) ကျပ်ငွေ နိုင်ငံခြားသုံးငွေ

(က) လုပ်ငန်းလည်ပတ်ရန် လိုအပ်မည့် ကျပ်ငွေ - နောက်ဆက်တွဲ - ၁၀

(ခ) လိုအပ်မည့် နိုင်ငံခြားသုံးငွေ - နောက်ဆက်တွဲ - ၈

(ဂ) ရရှိမည့် နိုင်ငံခြားသုံးငွေပမာဏ - နောက်ဆက်တွဲ - ၈

(ဃ) ပြည်ပသို့ တင်ပို့ရောင်းချနိုင်မည့် ကုန်ပစ္စည်း၊ဝန်ဆောင်မှုတန်ဖိုးပမာဏ -

(င) နှစ်စဉ် ပြည်တွင်း၌ ရောင်းချမည့် ကုန်ပစ္စည်း၊ဝန်ဆောင်မှုတန်ဖိုးပမာဏ -

၁၁။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းတွင် လိုအပ်မည့်အမှုထမ်းများစာရင်း

(က) ပြည်တွင်းမှ လိုအပ်မည့်အမှုထမ်း - နောက်ဆက်တွဲ-၆

(ခ) နိုင်ငံခြားမှ လိုအပ်မည့် ကျွမ်းကျင်သူနှင့် အတတ်ပညာရှင်များ-

ကျွမ်းကျင်မှု အမျိုးအစား ဦးရေ ခန့်ထားမည့်အချိန်ကာလ

၁၂။ စီးပွားရေးတွက်ခြေကိုက်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ -

| | | | ကျပ်ငွေ | နိုင်ငံခြားငွေ |
|---|---|---|---|---|
| (က) | နှစ်စဉ် ဝင်ငွေရရှိမှု | - | နောက်ဆက်တွဲ - ၄ | |
| (ခ) | နှစ်စဉ် လုပ်ငန်းကုန်ကျစရိတ် | - | နောက်ဆက်တွဲ - ၇ | |
| (ဂ) | နှစ်စဉ် အသားတင်အမြတ် | - | နောက်ဆက်တွဲ - ၇ | |
| (ဃ) | နှစ်စဉ်အလိုက် ရင်းနှီးမြှုပ်နှံမှု | - | နောက်ဆက်တွဲ - ၈ | |
| (င) | နှစ်အလိုက် ချေးငွေ ပြန်ဆပ်မှု | - | နောက်ဆက်တွဲ - ၁၁ | |
| (စ) | အရင်းကြေကာလ | - | နောက်ဆက်တွဲ - ၉ နှင့် ၁၂ | |
| (ဆ) | အခြားအကျိုးအမြတ်များ | - | နောက်ဆက်တွဲ - ၅ | |
| (ဇ) | အလုပ်အကိုင်သစ်များ ပေါ်ပေါက်လာမည့် အခြေအနေ | - | နောက်ဆက်တွဲ - ၆ | |

၁၃။ ဆောင်ရွက်ရန် အဆိုပြုချက်နှင့်စပ်လျဉ်းသည့် အထောက်အထားများ အဆိုပြုတင်ပြသည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းအတွက် အောက်ဖော်ပြပါ အထောက်အထားများကို ပူးတွဲတင်ပြအပ်ပါသည် -

(က) ပဋိညာဉ်စာချုပ်မူကြမ်း (လိုအပ်သည့်ကိစ္စအတွက်)

(ခ) လုပ်ငန်းပိုင်နှင့် ငွေရေးကြေးရေးဆိုင်ရာ စာရင်းဇယားနှင့်အထောက်အထားများ

(ဂ) သင်းဖွဲ့မှတ်တမ်းနှင့်သင်းဖွဲ့စည်းမျဉ်း

လေး စား စွာ ဖြင့်

လက်မှတ်

အမည် ။ ဦးထွန်းမြင့်နိုင်

ရာထူး ။ အုပ်ချုပ်မှုဒါရိုက်တာ

အေးရှားဝေါ(လ်)ကုမ္ပဏီလီမိတက်။

PROPOSAL FORM (1) RE-ITEM 4 (a), 5 (c)

LIST OF EXECUTIVES OF ASIA WORLD COMPANY LIMITED

*Exhibit No. 1*

| Sr. No. | NAME | Citizenship & N.R.C No. Passport No. | Designation | Address | Amount of Capital | % |
|---|---|---|---|---|---|---|
| | အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက် ကို ကိုယ်စားပြုသူ - | | | | | |
| ၁။ | ဦးထွန်းမြင့်နိုင် | မြန်မာ<br>၁၂/မရက(နိုင်) ၁၀၁၆၃၅ | အုပ်ချုပ်မှုဒါရိုက်တာ | အမှတ်(၂၀/၂၃)၊ မစိုးရိမ်ကျောင်းလမ်း၊ (၅) ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့။ | | |
| ၂။ | ဦးမောင်ကျေး | မြန်မာ<br>၁၂/လသန(နိုင်) ၀၁၈၁၇၄ | ဒါရိုက်တာ | အမှတ်(၃၆)၊ ရေကျော်လမ်း၊ (၉)ရပ်ကွက်၊ ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့။ | | |
| ၃။ | ဦးသန်းမြင့် | မြန်မာ<br>၁၂/လမတ(နိုင်) ၀၂၇၇၇၂ | ဒါရိုက်တာ | အမှတ်(၆၂)၊ ရွှေတောင်တန်းလမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။ | | |
| | | | | စုစုပေါင်းရင်းနှီးငွေ | ကျပ်(၁၀၀၀) သိန်း | 100% |

PROPOSAL FORM (1) RE-ITEM 8(A), (B)

LIST OF MACHINERY AND EQUIPMENT ETC

TO BE IMPORTED FROM ABROAD BY DEFERRED PAYMENT SYSTEM

*Exhibit - No. 2*

| Sr. | Particular | Unit Price | Unit | Amount US$ |
|---|---|---|---|---|
| | **Machinery & Equipment** | | | |
| 1 | Tipper / Dump Truck | 5.500 /Unit | 30 | 165.000 |
| 2 | Truck | 5.000 Unit | 15 | 75.000 |
| 3 | Tyre Roller | 10.000 /Unit | 1 | 10.000 |
| 4 | Steel Roller | 10.000 /Unit | 1 | 10.000 |
| 5 | Excavator | 15.000 /Unit | 8 | 120.000 |
| 6 | Grader | 14.000 /Unit | 1 | 14.000 |
| 7 | Loader | 15.000 /Unit | 1 | 15.000 |
| 8 | Dozer | 15.000 /Unit | 1 | 15.000 |
| 9 | Bowser | 6.000 /Unit | 4 | 24.000 |
| 10 | Transporter | 7.000 /Unit | 4 | 28.000 |
| 11 | Concrete Pump | 11.000 /Set | 1 | 11.000 |
| 12 | Agitator Truck/Mixer Truck | 6.000 /Unit | 2 | 12.000 |
| 13 | Trailer Head | 7.000 /Unit | 8 | 56.000 |
| 14 | Trailer | 2.100 /Unit | 8 | 16.800 |
| 15 | 4/4 Wheel Vehicle | 15.000 /Unit | 8 | 120.000 |
| 16 | Hydraulic Crane | 15.000 /Unit | 3 | 45.000 |
| 17 | Saloon | 12.000 Unit | 6 | 72.000 |
| 18 | Generator 150 KVA | 6.000 /Set | 3 | 18.000 |
| 19 | Generator 100 KVA | 5.000 /Set | 3 | 15.000 |
| 20 | Generator 625 KVA | 9.000 /Set | 3 | 27.000 |
| 22 | Mini Bus | 4.000 Unit | 8 | 32.000 |
| 23 | Fully Electronic Weighbridge | 12.000 /Set | 8 | 96.000 |
| 24 | Tool Collection System | 8.000 /Set | 8 | 64.000 |
| 25 | Spare Part for Weighbridge ( Load Cells.Electronic conversion Kits US3.UB7.Digital weigh indicator . Vibrator motor) | | | 35.000 |
| 26 | Spare Part for Tool Collection ( Cash Register . Traffic Light Control . Mounting alam.Indicator & Printer.Barrier etc.) | | | 30.000 |
| 27 | Computer | 85 /Set | 30 | 2.550 |
| | Printer | 70 /Set | 25 | 1.750 |
| | Computer Accessories (Mother Board . Processor.CD Drive. UPS .Hard disk.memory ) | | | 20.700 |
| 28 | Air con | 90 /Set | 30 | 2.700 |
| 29 | Spare part for vehicle & Equipment ( engine gear box . pump . disel engine .moter etc.) | | | 70.500 |
| | **TOTAL** | | | **1,224,000** |
| | *Equivalent in Kyat* | | | ***7,344,000*** |

Note : Exchange Rate 1 US$ = Kyats 6.00

